




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၆၂၄..... / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဩဂုတ် လ ၂၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ............ ဦးနေမျိုးနိုင်

(ခ) အဘ အမည် ............ ဦးကျင်တိ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ............ ၁၂/လမတ(နိုင်) ၀၀၁၀၂၄

(ဃ) နေရပ်လိပ်စာ ............ အမှတ်(၆၅/၇၀)၊ (၁၈-၀၅/၀၆)လွှာ၊ သံသုမာလမ်း၊ ချမ်းသာဂုဏ်ရောင် ကွန်ဒို၊ မေတ္တာညွန့်ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ............ Chantha Shwemyay Construction Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ............ BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ............ ညောင်လေးပင်- မဒေါက်- ရွှေကျင်- ဝင်းကဲ လမ်းပိုင်း (၃၉/၀) မိုင်

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ............ ၆၃၀၅.၄၀ (သန်း) (အမေရိကန်ဒေါ်လာ ၄.၉၉ သန်း အပါအဝင် စုစုပေါင်းကျပ် ခြောက်ထောင်သုံးရာ့ငါးသန်းနှင့် လေးသိန်း တိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၆၄ / ၂၀၁၃ (မနသ)

၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၁ ရက်

၁။ မြန်မာကုမ္ပဏီ ဖြစ်သော Chantha Shwemyay Construction Co., Ltd. သည် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင် ညောင်လေးပင်- မဒေါက်- ရွှေကျင်-ဝင်းကဲ လမ်းအပိုင်း (၃၉/၀မိုင်)ကို B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၃၁-၁၀-၂၀၁၂) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၃/၂၀၁၂) အစည်းအဝေး သို့ တင်ပြခဲ့ရာ ခွင့်ပြုရန်၊ ရင်းနှီးမြှုပ်နှံမှုတွင် ထည့်သွင်းဖော်ပြထားသည့် မော်တော်ယာဉ်များအား ပြည်တွင်း မှ ဝယ်ယူရန် နှင့် အဆိုပြုချက်အား ပြင်ဆင်တင်ပြလာပါက ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ ကုမ္ပဏီမှ ယာဉ်အမျိုးအစား (၆)မျိုးကို ပြည်ပမှ တင်သွင်းခွင့် ပြုပါရန် (၁-၄-၂၀၁၃)ရက်စွဲပါ စာဖြင့် ထပ်မံ တင်ပြလာရာ ကော်မရှင်မှ လူစီးမော်တော်ယာဉ် (၃)မျိုးကို ပြည်တွင်းတွင်ဝယ်ယူရန် နှင့် ကျန်လုပ်ငန်းသုံး ယာဉ်ယန္တရားများအား ပြည်ပမှ တင်သွင်းခွင့်ပြုကြောင်း လမ်းညွှန်ခဲ့ပါသည်။ ကုမ္ပဏီမှ ကော်မရှင်၏ လမ်းညွှန်ချက်နှင့် အညီ (၂-၈-၂၀၁၃)ရက်စွဲပါ စာဖြင့် ပြင်ဆင် တင်ပြလာပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Chantha Shwemyay Construction Co., Ltd. မှ ညောင်လေးပင်-မဒေါက်-ရွှေကျင်-ဝင်းကဲ လမ်းအပိုင်း (၃၉/၀မိုင်) အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၉၂၄/၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Chantha Shwemyay Construction Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ) အရ လုပ်ငန်းတစ်ခုချင်းအလိုက် ပုဒ်မခွဲ(က)ပါ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန်စည်းကြပ်ရန်ကိစ္စအလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်သည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက် ငွေကို အမြတ်ငွေ မှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ) အရ လုပ်ငန်း တည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ် အတွက် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးကို ဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည) အရ ကော်မရှင် ခွင့်ပြုချက်ဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့်

စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Chantha Shwemyay Construction Co., Ltd. သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက်** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Chantha Shwemyay Construction Co., Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ Chantha Shwemyay Construction Co., Ltd. သည် ညောင်လေးပင်-မဒေါက်-ရွှေကျင်-ဝင်းကံ လမ်းအပိုင်း (၃၉/၀မိုင်) တို့ကို BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် Chantha Shwemyay Construction Co., Ltd. တို့ ချုပ်ဆိုမည့် ညောင်လေးပင်-မဒေါက်-ရွှေကျင်-ဝင်းကံ လမ်းအပိုင်း (၃၉/၀မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့် အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၈။ Chantha Shwemyay Construction Co., Ltd. ၏ ညောင်လေးပင်-မဒေါက်-ရွှေကျင်-ဝင်းကံ လမ်းအပိုင်း (၃၉/၀မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း သက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်။ လုပ်ငန်း သက်တမ်းကာလကို လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက်ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ်အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည်။

၉။ လမ်း အသုံးပြုခ ရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်-

| | | | |
|---|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - | ၅% ပေးသွင်းရန် |

(ဂ) (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၀% ပေးသွင်းရန်

(ဃ) (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် - ၁၅% ပေးသွင်းရန်

(င) (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် - ၂၀% ပေးသွင်းရန်

၁၀။ လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့်ကာလ နှစ်(၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတားများ၊ ဂိတ်များ နှင့် အဆောက်အဦများကို ဆောက်လုပ်ပြီးစီး ချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း သို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ Chantha Shwemyay Construction Co., Ltd. မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စ နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ) ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင် သို့ သီးခြား တင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေး ထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး နှင့် စာရင်း ဇယား စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၂။ Chantha Shwemyay Construction Co., Ltd. သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရ မည်။ ထို့ပြင် နိုင်ငံတော် မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက် ထားမှု အခြေအနေ ကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ Chantha Shwemyay Construction Co., Ltd. သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ Chantha Shwemyay Construction Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ Chantha Shwemyay Construction Co., Ltd. သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့်နေ့ရက်နှင့် စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကေ- ၆(က) /မ- ၁၂၃၂/၂၀၁၃(၉၄၅၀ – ဂ)
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ် လ ၂၁ ရက်

ကန့်သတ်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေး ဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန
ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့် နည်းပညာ ဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

**ကန့်သတ်**

၇

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ Chantha Shwemyay Construction Co., Ltd.